ပုံစံ (မနသ-၂)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊မနသ- ၁၂၀၇/၂၀၁၆ ။ ၂၀၁၆ ခုနှစ်၊ စက်တင်ဘာလ ၁၄ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးခင်မောင်မြင့်

(ခ) **အဘ အမည်** ဦးမိုဟာမက်အဇါမ်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/မဂဒ(နိုင်) ၁၀၉၂၈၄

(ဃ) **နေရပ်လိပ်စာ** အမှတ် (၂၂/က)၊ ၂ လမ်း၊ ပြန်လည်နေရာချထားရေးရပ်ကွက်၊ အိမ်ခြေ (၃၀) ၊ မင်္ဂလာဒုံမြို့နယ် ၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** CNM Garment Industrial Limited (စီအန်အမ် ဂါးမင့် အင်ဒတ်စရီရယ် လီမိတက် )

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ ဝါးနက်ချောင်းကွင်းအမှတ် (၅၉၄ A)၊ အောက်ဝါးနက်ချောင်းကျေးရွာအုပ်စု၊ ဦးပိုင်အမှတ် (၃/၉)၊ (၃/၁၀)၊ (၃/၂ + N-၃၆) ရှိ မြေဧရိယာ ၁.၉၁ ဧက (၇,၇၂၉.၅၀၃ စတုရန်းမီတာ)

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၇၀၄.၇၃၃ သန်း (အမေရိကန်ဒေါ်လာ ၀.၄၈၄ သန်း အပါအဝင် ကျပ်သန်းပေါင်း ခုနှစ်ရာ့လေးနှင့် ခုနှစ်သိန်းသုံးသောင်းသုံးထောင်ခန့်)

(ဈ) **တည်ဆောက်မှုကာလ** ၁ နှစ်

14.9.16

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ကန့်သတ်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၁၈၇ /၂၀၁၆(မနသ)

၂၀၁၆ ခုနှစ် စက်တင်ဘာလ ၁၄ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော စီအန်အမ် ဂါးမင့် အင်ဒတ်စရီရယ် လီမိတက် (CNM Garment Industrial Limited) သည် ဦးပိုင်အမှတ်(၃/၉)၊ (၃/၁၀)၊ (၃/၂+N-၃၆)၊ အောက်ဝါးနက်ချောင်းကျေးရွာအုပ်စု၊ ဝါးနက်ချောင်းကွင်း အမှတ်(၅၉၄ A)၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁.၉၁ ဧက (၇,၇၂၉.၅၀၃ စတုရန်းမီတာ) တွင် CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်ကို ၂၀၁၆ ခုနှစ် ဩဂုတ်လ ၂၆ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၁၆/၂၀၁၆ ကြိမ်မြောက်အစည်းအဝေး၌တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ)အရ အပ်နှင်း ထားသောလုပ်ပိုင်ခွင့်များကို ကျင့်သုံး လျက် စီအန်အမ် ဂါးမင့် အင်ဒတ်စရီရယ် လီမိတက် (CNM Garment Industrial Limited) ကို CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ - ၁၂၀၇/၂၀၁၆ ကိုထုတ်ပေး လိုက်သည်။

၂။ စီအန်အမ် ဂါးမင့် အင်ဒတ်စရီရယ် လီမိတက် (CNM Garment Industrial Limited) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက် ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှရရှိသောအမြတ်ငွေကို ပြန်လည်ရင်းနှီးမြှုပ်နှံရန် အတွက် သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်းယင်း လုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(ဃ) အရ လုပ်ငန်းက ထုတ်လုပ်သည့်ပစ္စည်းကို ပြည်ပသို့ တင်ပို့ ရောင်းချလျှင် ထိုသို့တင်ပို့ရောင်းချ၍ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်း အထိ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၅)နှစ် ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

ကန့်သတ်

(ဃ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကိုယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှု ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း ကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံးအခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျှော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျှော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်း တန်ဖိုးလျှော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ၂၀(ဈ)အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ် အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးစလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဇ) ဥပဒေပုဒ်မ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာ များ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဈ) ဥပဒေပုဒ်မ၂၀(ဋ)အရ ပြည်ပသို့တင်ပို့ရန် ထုတ်လုပ်သည့် ပစ္စည်းများအပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်း အမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများသင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍

နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ စီအန်အမ် ဂါးမင့် အင်ဒတ်စရီရယ် လီမိတက် (CNM Garment Industrial Limited) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှုရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ်ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ စီအန်အမ် ဂါးမင့် အင်ဒတ်စရီရယ် လီမိတက် (CNM Garment Industrial Limited) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေနှင့် အဆောက်အဦ အငှားချထားသူ ဒေါ်စံနှင်းခိုင် နှင့် အငှားချထားခြင်းခံရသူ စီအန်အမ် ဂါးမင့် အင်ဒက်စရီရယ် လီမိတက် (CNM Garment Industrial Limited) တို့ ချုပ်ဆိုထားသည့် မြေနှင့်အဆောက်အဦ ငှားရမ်းခြင်း သဘောတူ စာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ထမ်းဆောင်ပြီးသည့်အခါ ယင်းသဘော တူစာချုပ်မိတ္တူ (၅) စောင်ကို ဤကော်မရှင်သို့ မပျက်မကွက်ပေးပို့ တင်ပြရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဥ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၈။ စီအန်အမ် ဂါးမင့် အင်ဒတ်စရီရယ် လီမိတက် (CNM Garment Industrial Limited) သည် အဆိုပြု လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက် ပျက်စီးမှုများလျော့နည်းစေရေးတို့အတွက် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဥ် (Environmental Management Plan-EMP)ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနတို့သို့ ပေးပို့ အစီရင်ခံ ရမည်။

၉။ စီအန်အမ် ဂါးမင့် အင်ဒတ်စရီရယ် လီမိတက် (CNM Garment Industrial Limited) သည် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြု ထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံး လုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံး ပစ္စည်းများကို အသုံးပြုတတ်စေရန် သင်တန်းများပေးရမည်။

၁၀။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ အခြားသောပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာနည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက် မကွက်** အစီရင်ခံရမည်။

၁၁။ စီအန်အမ် ဂါးမင့် အင်ဒတ်စရီရယ် လီမိတက် (CNM Garment Industrial Limited) သည် ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေအရ ရန်ကုန်တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက်ရမည်။

၁၂။ စီအန်အမ် ဂါးမင့် အင်ဒတ်စရီရယ် လီမိတက် (CNM Garment Industrial Limited) သည် ကနဦး လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (သုံး)လတစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ်စတင် ဆောင်ရွက်သည့်နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်**တင်ပြ၍အတည်ပြုခွင့်ပြုချက်ကိုရယူရမည်။

၁၄။ စီအန်အမ် ဂါးမင့် အင်ဒတ်စရီရယ် လီမိတက် (CNM Garment Industrial Limited) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာဝန်ကြီး ဌာနများမှချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

၁၅။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသောလုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင် တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ

ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၆။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

14.9.16

(ကျော်ဝင်း)

ဥက္ကဋ္ဌ

စာအမှတ်၊ မရက-၃/မ-၁၃၄၂/၂၀၁၆(၁၂၂၃-ဃ)

ရက်စွဲ၊ ၂၀၁၆ ခုနှစ် စက်တင်ဘာလ ၁၄ ရက်

**ဖြန့်ဝေခြင်း**

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန

သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန

အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန

စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန

ဥက္ကဋ္ဌ၊ CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

အုပ်ချုပ်မှုဒါရိုက်တာ၊ စီအန်အမ် ဂါးမင့် အင်ဒတ်စရီရယ် လီမိတက် (CNM Garment Industrial Limited)

## မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် တင်ပြလာသော စီအန်အမ် ဂါးမင့် အင်ဒတ်စရီရယ် လီမိတက် (CNM Garment Industrial Limited) ၏ ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်လက်ခံရရှိခြင်း | ၁၅-၃-၂၀၁၆ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | - ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး(ပထမအကြိမ်) | ၂၉-၃-၂၀၁၆ | - | |
| | - ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး(ဒုတိယအကြိမ်) | ၁၆-၆-၂၀၁၆ | - | |
| | - ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး(တတိယအကြိမ်) | ၅-၇-၂၀၁၆ | ၂၀-၇-၂၀၁၆ | |
| | - သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန | ၂၉-၃-၂၀၁၆ | ၇-၄-၂၀၁၆ | |
| | - စက်မှုဝန်ကြီးဌာန (ပထမအကြိမ်) | ၂၉-၃-၂၀၁၆ | ၂၉-၄-၂၀၁၆ | |
| | - စက်မှုဝန်ကြီးဌာန (ဒုတိယအကြိမ်) | ၂၉-၆-၂၀၁၆ | ၂၉-၇-၂၀၁၆ | |
| | - CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ (ပထမအကြိမ်) | ၂၉-၃-၂၀၁၆ | ၂၆-၄-၂၀၁၆ | |
| | - CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ (ဒုတိယအကြိမ်) | ၂၇-၇-၂၀၁၆ | ၉-၈-၂၀၁၆ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေး သို့ တင်ပြခြင်း | ၁၂/၂၀၁၆ (၂၀-၃-၂၀၁၆) | | |
| ၄ | အဆိုပြုလွှာ လက်ခံကြောင်း ကုမ္ပဏီသို့ ပြန်ကြားခြင်း | ၂၁- ၃-၂၀၁၆ | | |
| ၅ | အဆိုပြုချက်အား ပြန်လည် ပေးပို့ခြင်း | ၂၀-၆-၂၀၁၆ | | |
| ၆ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြင်ဆင်တင်ပြခြင်း | ၁၂-၇-၂၀၁၆ | | |
| ၇ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြန်လည်ပြင်ဆင်၍ အဆိုပြုလွှာ အစုံ(၁၅)စုံ ပေးပို့ခြင်း | ၂၂-၈-၂၀၁၆ | | |
| ၈ | **စုစုပေါင်းကြာမြင့်ရက်** | (၁၅၇)ရက် | | |

| | |
|---|---|
| ကုမ္ပဏီအမည် | - စီအန်အမ် ဂါးမင့် အင်ဒတ်စရီးယ် လီမိတက် |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း |
| တည်နေရာ | - ဦးပိုင်အမှတ်(၃/၉)၊ (၃/၁၀)၊ (၃/၂+ အန်-၃၆)၊ အောက်ဝါးနက်ချောင်းကျေးရွာအုပ်စု၊ ဝါးနက်ချောင်းကွင်းအမှတ်(၅၉၄/အေ)၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁.၉၁ ဧက (၇,၇၂၉.၅၀၃ စတုရန်းမီတာ) |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၇၀၄.၇၃၃ သန်း (US$ ၀.၄၈၄ သန်း အပါအဝင်) |
| ရောင်းချမည့်စနစ် | - ၁၀၀% ပြည်ပသို့တင်ပို့ခြင်း |
| လုပ်ငန်းသက်တမ်း | - ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ကြိမ် |
| အရင်းကြေကာလ | - ၇ နှစ် ၄ လ |
| IRR | - ၁၈.၂၅ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ | ၁.၆၈၀(တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၈၅.၀၀၀ | - |
| ၄ | ဝင်ငွေခွန် | ၃၃.၆၁၀ | ၁၅၈.၉၁၀ |
| ၅ | လျှပ်စစ်မီးသုံးစွဲခ | - | ၁၄၆.၆၅၀ |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | တစ်နှစ်ဝင်ငွေကျပ်သိန်း လေးဆယ့်ရှစ်ထက်ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း (၄)ဦး |
| ၇ | CSR ( ၂%) | - | ၁၈.၅၃၀ |
| ၈ | မြေငှားရမ်းခရငွေ | - | ၃၀၀.၀၀၀ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၂၅၁ ဦး<br>ပြည်ပ ၂ ဦး<br>ပြည်တွင်း လုပ်သား (၂၅၁) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။<br>အလုပ်အကိုင် အခွင့်အလမ်းများပိုမိုရရှိစေပြီး ဆင်းရဲနွမ်းပါးမှု လျှော့ချရေးကို အထောက်အကူ ပြုစေနိုင်ပါသည်။ |
| | | ကျပ် ၁၂၀.၂၉ သန်း | ကျပ် ၆၂၅.၂၅၆ သန်း |
| | Cost : Benefit | ၁ : ၅ | |

ရင်းနှီးမြှုပ်နှံမှုဌာနခွဲ (၂)

PAT ၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်မှု

| စဉ် | လုပ်ငန်းအမည် | အမျိုးအစား | PAT အကြိမ် နေ့စွဲ | ဆွေးနွေးချက်မှ ပြင်ဆင်ရန် လိုအပ်ချက် | ဆောင်ရွက် ပြီးစီးမှု | Case Officer |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁ | စီအန်အမ် ဂါးမင့် အင်ဒက် စရီရယ် လီမိတက် (CNM Garment Industrial Ltd.) | CMPစနစ်ဖြင့် အထည်ချုပ် လုပ်ငန်း | ၁၂/၂၀၁၆<br>၂၁-၃-၂၀၁၆ | - လုပ်ငန်းတိုးချဲ့လျှင် တိုးချဲ့ ရင်းနှီးမြှုပ်နှံမှုများကို တင်ပြပေးရန်။ | ပြင်ဆင်ပြီး | က |
| | | | | - လက်ရှိလုပ်ငန်းအတွက် ဝင်ငွေ ပေးဆောင်ထား သည့် အထောက်အထား တင်ပြပေးရန်။ | တင်ပြပြီး | ခ |
| | | | | - ပြည်တွင်း ဝန်ထမ်း လျော့နည်းသွားသည်ကို တွေ့ရသဖြင့် ကိုက်ညီမှု ရှိအောင် ပြန်လည် စိစစ် ပေးရန်။ | ပြင်ဆင်ပြီး | ဂ |

**အကြောင်းအရာ။** **စီအန်အမ် ဂါးမင့် အင်ဒတ်စရီရယ် လီမိတက် (CNM Garment Industrial Limited) မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိုစိစစ်လျှင်းသည့် အဓိကအချက်အလက်များ**

| | | |
|---|---|---|
| ၁ | ကုမ္ပဏီအမည် | - စီအန်အမ် ဂါးမင့် အင်ဒတ်စရီရယ် လီမိတက် (CNM Garment Industrial Limited) |
| | လုပ်ငန်းအဆိုပြုသူအမည် | - ဦးခင်မောင်မြင့် (အဘ- ဦးမိုဟာမက်အဇါမ်) |
| ၂ | အဆိုပြုလုပ်ငန်းအမျိုးအစား | - CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်း |
| ၃ | လုပ်ငန်းတည်နေရာ | - ဦးပိုင်အမှတ်(၃/၉)၊ (၃/၁၀)၊ (၃/၂+ အန်-၃၆)၊ အောက်ဝါးနက်ချောင်း ကျေးရွာအုပ်စု၊ ဝါးနက်ချောင်း ကွင်းအမှတ် (၅၉၄/အေ)၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| | မြေပိုင်ရှင် | - ဒေါ်စံနှင်းခိုင် |
| | မြေအကျယ်အဝန်း | - မြေဧရိယာ ၁.၉၁ ဧက (၇,၇၂၉.၅၀၃ စတုရန်းမီတာ) |
| | အဆောက်အဦအကျယ်အဝန်း | - (၂၂၀ ပေ x ၉၀ ပေ) တစ်ထပ် စက်ရုံအဆောက်အဦ ၁ လုံး |
| ၄ | မြေငှားရမ်းကာလ | - ၅ နှစ် |
| | မြေနှင့်အဆောက်အဦ ငှားရမ်းခ | - ပထမနှစ် တစ်လလျှင် ကျပ် ၃,၅၀၀,၀၀၀<br>ဒုတိယနှစ် တစ်လလျှင် ကျပ် ၄,၅၀၀,၀၀၀<br>တတိယနှစ် တစ်လလျှင် ကျပ် ၅,၀၀၀,၀၀၀<br>စတုတ္ထနှစ် တစ်လလျှင် ကျပ် ၅,၅၀၀,၀၀၀<br>ပဥ္စမနှစ် တစ်လလျှင် ကျပ် ၆,၀၀၀,၀၀၀<br>ပထမနှစ် ၁ နှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၅,၄၃၃.၇၂ နှုန်း ဖြစ်ပါသည်။ |
| ၅ | **စုစုပေါင်းမတည်ငွေရင်းပမာဏ** | - **ကျပ် ၇၀၄.၇၃၃ သန်း (US$ ၀.၄၈၄ သန်း အပါအဝင်)** |

| | **ထည့်ဝင်ပြီး ပမာဏ** | **ထပ်မံထည့်ဝင် မည့်ပမာဏ** | **ကျပ်(သန်း) စုစုပေါင်း** |
|---|---|---|---|
| - ငွေပမာဏ | ၅.၀၀၀ | ၅.၀၀၀ | ၁၀.၀၀၀ |
| - စက်ပစ္စည်းကိရိယာများတန်ဖိုး(ပြည်ပ) | - | ၅၈၁.၁၂၂ (US$ ၀.၄၈၄ သန်း) | ၅၈၁.၁၂၂ (US$ ၀.၄၈၄ သန်း) |
| - စက်ပစ္စည်းကိရိယာများတန်ဖိုး(ပြည်တွင်း) | ၉၃.၁၂၀ | ၁.၁၂၃ | ၉၄.၂၄၃ |
| - ရုံးသုံးပရိဘောဂတန်ဖိုး(ပြည်တွင်း) | ၀.၇၇၀ | - | ၀.၇၇၀ |
| - စက်ရုံသုံးပရိဘောဂတန်ဖိုး(ပြည်တွင်း) | ၁.၈၆၈ | ၃.၉၅၂ | ၅.၈၂၀ |
| - ရုံးသုံးပစ္စည်းတန်ဖိုး (ပြည်တွင်း) | ၇.၇၃၀ | - | ၇.၇၃၀ |
| - စက်ရုံသုံးပစ္စည်းတန်ဖိုး(ပြည်တွင်း) | - | ၅.၀၄၈ | ၅.၀၄၈ |
| **စုစုပေါင်းမတည်ငွေရင်းပမာဏ** | **၁၀၈.၄၈၈** | **၅၉၆.၂၄၅ (US$ ၀.၄၈၄ သန်း အပါအဝင်)** | **၇၀၄.၇၃၃ (US$ ၀.၄၈၄ သန်း အပါအဝင်)** |

| | | |
|---|---|---|
| ၆ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ကြိမ် |
| ၇ | ပြုပြင်မွမ်းမံမှုကာလ | - ၁ နှစ် |
| ၈ | ရောင်းချမည့်နည်းစနစ် | - ၁၀၀ % ပြည်ပသို့တင်ပို့မည်ဖြစ်ပါသည်။ |
| ၉ | ထုတ်လုပ်မှုနှင့် CMP လက်ခနှုန်း (၆နှစ်မြောက်) | - |

| အမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (pcs) | CMP လက်ခနှုန်း (US$/pcs) |
|---|---|---|
| Shirt | ၁,၅၀၀,၀၀၀ | ၂.၃၅ |

| | | |
|---|---|---|
| ၁၀ | ကုမ္ပဏီဝင်ငွေ(၆ နှစ်မြောက်) | - ကျပ် ၄,၂၃၀.၀၀ သန်း |
| | အသုံးစရိတ်(၆ နှစ်မြောက်) | - ကျပ် ၃,၆၈၀.၁၀ သန်း |
| | အသားတင်အမြတ်(၆ နှစ်မြောက်) | - ကျပ် ၅၄၉.၉၀ သန်း |
| ၁၁ | ဝန်ထမ်းအင်အားစုစုပေါင်း(ပထမနှစ်) | - ၂၅၃ ဦး |
| | ပြည်တွင်း | - ၂၅၁ ဦး (ပြည်တွင်း အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၁၂၀,၀၀၀ နှင့် အမြင့်ဆုံးဝန်ထမ်းတစ်ဦး ၏ လစာ ကျပ် ၃၀၀,၀၀၀) |
| | ပြည်ပ | - ၂ ဦး (ပြည်ပဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၃,၀၀၀) |
| ၁၂ | အရင်းကြေကာလ | - ၇ နှစ် ၄ လ |
| | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR) | - ၁၈.၂၅ % |
| | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ် (၆ နှစ်မြောက်) | |
| | ဝင်ငွေခွန် | - ကျပ် ၁၈၃.၂၉၉ သန်း |
| ၁၃ | နှစ်စဉ်လျှပ်စစ်ဓာတ်အားလိုအပ်ချက် | - ၁၀၀,၀၀၀ kWh |
| ၁၄ | CSR | - လူမှုဘဝ သာယာဝပြောရေး တာဝန်ယူမှု (Corporate Social Responsibility) အတွက် အသားတင်အမြတ်ငွေ၏ ၂% ကိုသုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| | မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက် | - မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေး အစီအမံများကို ရေးဆွဲတင်ပြထားပါသည်။ |
| | အခြား | - မြေပိုင်ဆိုင်မှုအထောက်အထား၊ မြေဂရန်၊ မြေပုံနှင့် အဆောက်အဦဓါတ်ပုံတို့ကို တင်ပြထားပါသည်။ |
| | | - စီအန်အမ်ဂါးမင့် အင်ဒတ်စရီရယ်လီမိတက်နှင့် ဟောင်ကောင်မှ YAGI & Company (HK) Limited တို့ အကြားချုပ်ဆိုထားသော ၁-၁-၂၀၁၆ မှ ၁-၁-၂၀၁၈ အထိ ၂ နှစ်သက်တမ်းရှိသော Order Agreement တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - ကုန်ကြမ်းပစ္စည်းများအား တရုတ်ပြည်သူ့ သမ္မတနိုင်ငံမှ တင်သွင်းမည်ဖြစ်ကြောင်း၊ ထုတ်လုပ်မည့် ကုန်အမှတ်တံဆိပ်မှာ Peter England ဖြစ်ပြီး အင်္ဂလန်နှင့် ဂျာမနီနိုင်ငံတို့သို့ ၁၀၀% တင်ပို့မည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။<br>- စက်ပစ္စည်းများတင်သွင်းရာတွင် Brand New များကိုသာ တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- စီအန်အမ်ဂါးမင့် အင်ဒတ်စရီရယ်လီမိတက်သည် ကုမ္ပဏီများဆိုင်ရာ အခွန်လုပ်ငန်းစုရုံးသို့ (၂၀၁၄-၂၀၁၅) နှင့် (၂၀၁၅-၂၀၁၆) ဘဏ္ဍာရေးနှစ်များအတွက် နှစ်ချုပ်ရှင်းတမ်းများကို တင်ပြပြီး အခွန်ရှင်းလင်း ဆောင်ရွက်လျက်ရှိပါကြောင်း ဝင်ငွေခွန် နှင့် ကုန်သွယ်လုပ်ငန်းခွန် ကြေငြာလွှာ မိတ္တူတို့ကို တင်ပြထားပါသည်။ |
| ၁၅ | ငွေကြေးအထောက်အထား | ဦးခင်မောင်မြင့်သည် ကမ္ဘောဇဘဏ် (ထောက်ကြန့်ဘဏ်ခွဲ) တွင် ၂၈-၇-၂၀၁၆ရက်စွဲဖြင့်ကျပ် ၇၄,၅၁၁,၉၈၉.၄၆ ရှိကြောင်း အထောက်အထားများတင်ပြထားပါသည်။ |

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊မရက-၃/မ-၁၃၄၂/၂၀၁၆( ၁၁၁၄ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဩဂုတ်လ ၂၄ ရက်

### မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြသည့်
### အမှာစာ

အကြောင်းအရာ။ **စီအန်အမ် ဂါးမင့် အင်ဒတ်စရီရယ် လီမိတက် (CNM Garment Industrial Limited) မှ CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ**

၁။ စီအန်အမ် ဂါးမင့် အင်ဒတ်စရီရယ် လီမိတက် (CNM Garment Industrial Limited) သည် ဦးပိုင်အမှတ်(၃/၉)၊ (၃/၁၀)၊ (၃/၂+ အန်-၃၆)၊ အောက်ဝါးနက်ချောင်းကျေးရွာအုပ်စု၊ ဝါးနက်ချောင်းကွင်းအမှတ်(၅၉၄/အေ)၊ မှော်ဘီ မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁.၉၀ ဧက (၇,၇၂၉.၅၀၃ စတုရန်းမီတာ) ပေါ်ရှိ မြေနှင့်အဆောက်အဦအား ငှားရမ်း၍ CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးခင်မောင်မြင့် (အဘ- ဦးမိုဟာမက်အဇါမ်) မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဒေါ်စံနှင်းခိုင် နှင့် စီအန်အမ် ဂါးမင့် အင်ဒတ်စရီရယ် လီမိတက် (CNM Garment Industrial Limited) တို့ချုပ်ဆိုမည့် မြေနှင့်အဆောက်အဦငှားရမ်းခြင်းသဘောတူစာချုပ် (မိတ္တူ)၊ မြေအထောက်အထားနှင့် အဆောက်အဦဓါတ်ပုံ၊ လုပ်ငန်းတည်နေရာပြမြေပုံများ၊ ကုမ္ပဏီမှတ်ပုံတင်လက်မှတ် အမှတ် ၄၆၂၈/၂၀၁၄-၂၀၁၅(မိတ္တူ)၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း (မိတ္တူ)၊ ၃၀-၁၁-၂၀၁၅ ရက်စွဲပါ စက်မှုမှတ်ပုံတင်အမှတ်၊ ရက/ကြီး/ ၄၀၇၀ ဖြင့် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်လက်မှတ် မိတ္တူတို့အား ပူးတွဲ တင်ပြထားပါသည်။ စီအန်အမ် ဂါးမင့် အင်ဒတ်စရီရယ် လီမိတက် (CNM Garment Industrial Limited) နှင့် ဟောင်ကောင် မှ YAGI & Company (HK) Limited တို့အကြားချုပ်ဆို ထားသော ၁-၁-၂၀၁၆ မှ ၁-၁-၂၀၁၈ အထိ ၂ နှစ်သက်တမ်း ရှိသော Order Agreement တင်ပြထားပါသည်။

၃။ မြေငှားရမ်းသက်တမ်းကာလမှာ ၅ နှစ် ဖြစ်ပါသည်။ စက်ရုံမြေနှင့်အဆောက်အဦငှားရမ်းခြင်းအတွက် ငှားရမ်းကာလ ၅ နှစ် ကုန်ဆုံးပါက ၎င်းမြေနေရာတွင် ဆက်လက် လုပ်ကိုင်မည်

(သို့မဟုတ်) မလုပ်ကိုင်ဖြစ်ပါက အခြားနေရာတွင် ငှားရမ်း လုပ်ကိုင် မည်ဖြစ်ပါ၍ ကနဦးအနေဖြင့် ၅ နှစ်ငှားရမ်းထားခြင်း ဖြစ်ပါကြောင်း ရှင်းလင်း တင်ပြထားပါသည်။ အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာ ၁.၉၁ ဧက (၇,၇၂၉.၅၀၃ စတုရန်းမီတာ) ပေါ်တွင် (၂၂၀′ × ၉၀′) တစ်ထပ်အဆောက်အဦ ၁ လုံး ပါဝင်ပြီး မြေနှင့် အဆောက်အဦငှားရမ်းခမှာ ပထမနှစ်အတွက် တစ်လလျှင် ကျပ် ၃,၅၀၀,၀၀၀၊ ဒုတိယနှစ်အတွက် တစ်လလျှင် ကျပ် ၄,၅၀၀,၀၀၀၊ တတိယနှစ်အတွက်တစ်လလျှင် ကျပ် ၅,၀၀၀,၀၀၀၊ စတုတ္ထနှစ်အတွက် တစ်လလျှင် ကျပ် ၅,၅၀၀,၀၀၀ နှင့် ပဥ္စမနှစ်အတွက် တစ်လလျှင် ကျပ် ၆,၀၀၀,၀၀၀ ဖြစ်ပါသည်။ ပထမနှစ်အတွက် ၁ နှစ် တစ်စတုရန်းမီတာ ကျပ် ၅,၄၃၃.၇၂ နှုန်း ဖြစ်ပါသည်။

၄။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်ဖြစ်ပြီး ပြုပြင်မွမ်းမံမှု ကာလမှာ ၁ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ မတည်ငွေရင်းပမာဏမှာ စုစုပေါင်း ကျပ် ၇၀၄.၇၃၃ သန်း (US$ ၀.၄၈၄ သန်း အပါအဝင်)ဖြစ်ပြီး အဆိုပြုလုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုအခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

ကျပ်(သန်း)

| စဉ် | ထည့်ဝင်မှု | ထည့်ဝင်ပြီးပမာဏ | ထပ်မံထည့်ဝင်မည့်ပမာဏ | စုစုပေါင်း |
|---|---|---|---|---|
| (က) | ငွေပမာဏ | ၅.၀၀၀ | ၅.၀၀၀ | ၁၀.၀၀၀ |
| (ခ) | စက်ပစ္စည်းကိရိယာများတန်ဖိုး(ပြည်ပ) | - | ၅၈၁.၁၂၂<br>(US$ ၀.၄၈၄ သန်း) | ၅၈၁.၁၂၂<br>US$ ၀.၄၈၄ သန်း) |
| (ဂ) | စက်ပစ္စည်းကိရိယာများတန်ဖိုး(ပြည်တွင်း) | ၉၃.၁၂၀ | ၁.၁၂၃ | ၉၄.၂၄၃ |
| (ဃ) | ရုံးသုံးပရိဘောဂတန်ဖိုး(ပြည်တွင်း) | ၀.၇၇၀ | - | ၀.၇၇၀ |
| (င) | စက်ရုံသုံးပရိဘောဂတန်ဖိုး(ပြည်တွင်း) | ၁.၈၆၈ | ၃.၉၅၂ | ၅.၈၂၀ |
| (စ) | ရုံးသုံးပစ္စည်းတန်ဖိုး (ပြည်တွင်း) | ၇.၇၃၀ | - | ၇.၇၃၀ |
| (ဆ) | စက်ရုံသုံးပစ္စည်းတန်ဖိုး(ပြည်တွင်း) | - | ၅.၀၄၈ | ၅.၀၄၈ |
| | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ၁၀၈.၄၈၈ | ၅၉၆.၂၄၅<br>(US$ ၀.၄၈၄ သန်း အပါအဝင်) | ၇၀၄.၇၃၃<br>(US$ ၀.၄၈၄ သန်း အပါအဝင်) |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း(၂၅၁) ဦးနှင့် ပြည်ပမှ ဝန်ထမ်း(၂)ဦး စုစုပေါင်း (၂၅၃)ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်း အနိမ့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၁၂၀,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်း တစ်ဦး၏ လစာ မှာ ကျပ် ၃၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၃,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှထွက်ရှိသော အထည်များကို ၁၀၀% ပြည်ပသို့ တင်ပို့မည်ဖြစ်ပါသည်။ ပုံမှန်နှစ် (၆-နှစ်မြောက်)တွင် Shirt အမျိုးအစား တစ်မျိုးတည်းကို အရေအတွက် ၁,၅၀၀,၀၀၀ (pcs) ထုတ်လုပ်မည်ဖြစ်ပြီး တစ်ထည်၏ CMP လက်ခနှုန်းများမှာ US $ ၂.၃၅ ဖြစ်ပါသည်။

၈။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ၆-နှစ်မြောက်တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အကြောင်းအရာ | ကျပ်(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၄,၂၃၀.၀၀ |
| (ခ) | အသုံးစရိတ် | ၃,၆၈၀.၁၀ |
| (ဂ) | အသားတင်အမြတ် | ၅၄၉.၉၀ |

မှတ်ချက်-အမေရိကန်ဒေါ်လာတစ်ဒေါ်လာလျှင် ၁,၂၀၀ ကျပ်နှုန်း ဖြင့်တွက်ချက်ထားပါသည်။

၉။ နိုင်ငံတော်မှ ၆-နှစ်မြောက်တွင်ရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၁၈၃.၂၉၉ သန်းရရှိမည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ အရင်းကြေကာလမှာ ၇ နှစ် ၄ လ ဖြစ်ပြီး အရင်းအနှီး အပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၁၈.၂၅ % ဖြစ်ပါသည်။

၁၀။ အဆိုပြုချက်နှင့် စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၊ သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ စက်မှုဝန်ကြီးဌာနနှင့် CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီများသို့ သဘောထားမှတ်ချက်များတောင်းခံခဲ့ရာ အောက်ပါအတိုင်းသဘောထားပြန်ကြား လာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ** ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ-က)**

(ခ) **သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့် ပြုရန်ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါ အချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြား ထားပါသည်-

(၁) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်း ဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန် နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့်လူမှုရေးဆိုင်ရာ အကျိုးပြုလုပ်ငန်းများ တာဝန်ခံ ဆောင်ရွက်မှု(Corporate Social Responsibility-CSR)အတွက်

အသားတင် အမြတ်ငွေ၏ ၂% အား အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များ အားလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan - EMP) အား ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့်စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၃) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီလိုက်နာ ဆောင်ရွက်ရန်။ **ကုမ္ပဏီမှ ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ်** (Environmental Management Plan - EMP) **အား ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းနှင့် အညီ ရေးဆွဲလျက်ရှိပြီး ရေးဆွဲပြီးပါက ဆက်လက်တင်ပြသွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။** **(နောက်ဆက်တွဲ - ခ)**

(ဂ) **စက်မှုဝန်ကြီးဌာန၏** သဘောထားမှတ်ချက်နှင့်အညီကုမ္ပဏီမှပြင်ဆင်တင်ပြခြင်းကိုစက်မှုဝန်ကြီးဌာနမှလက်ခံနိုင်ကြောင်းစိစစ်ပြီးဖြစ်ပါသည်။ **(နောက်ဆက်တွဲ-ဂ)**

(ဃ) **CMP လုပ်ငန်းများ ကြီးကြပ်ရေးကော်မတီ၏** သဘောထားမှတ်ချက်နှင့်အညီ ကုမ္ပဏီမှ ပြင်ဆင်တင်ပြခြင်းကို CMP လုပ်ငန်းများ ကြီးကြပ်ရေးကော်မတီမှ လက်ခံနိုင်ကြောင်း စိစစ်ပြီးဖြစ်ပါသည်။ **(နောက်ဆက်တွဲ-ဃ)**

၁၁။ ဦးခင်မောင်မြင့်သည် ကမ္ဘောဇဘဏ်(ထောက်ကြန့်ဘဏ်ခွဲ) တွင် ၂၈-၇-၂၀၁၆ ရက်စွဲဖြင့် ကျပ် ၇၄,၅၁၁,၉၈၉.၄၆ ရှိကြောင်း အထောက်အထားများတင်ပြထားပါသည်။

၁၂။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး၊ နိုင်ငံခြားမှမည်သူမှ ပိုင်ဆိုင်မှုမရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်းနှင့် မီးဘေးကြိုတင်ကာကွယ်ရေး အစီအမံများကို ရေးဆွဲ တင်ပြထားပါသည်။ ထို့အပြင်

ဝန်ထမ်း သက်သာချောင်ချိရေးအစီအစဉ် နှင့် တစ်နှစ်လျှင် လစာဝင်ငွေ ကျပ်သိန်း (၄၈) နှင့် အထက်ရှိသော ဝန်ထမ်းများအတွက် ဝင်ငွေခွန်ပေးဆောင်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ လုပ်ငန်းဆောင်ရွက်ရာတွင် နိုင်ငံတော်အစိုးရ၏ ပင်မ ဓါတ်အားလိုင်းမှ လျှပ်စစ်ဓါတ်အား ရယူသုံးစွဲမည့်အပြင် Generator ၂၅၀ KVA ၁ လုံးဖြင့် လျှပ်စစ်ဓါတ်အား ရယူ သုံးစွဲသွားမည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၄။ စီအန်အမ် ဂါးမင့် အင်ဒက်စရီရယ် လီမိတက် (CNM Garment Industrial Limited) မှ ပတ်ဝန်းကျင် နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် လုပ်ငန်းအစီအစဉ်များ စောင့်ကြည့်လေ့လာမည့် လုပ်ငန်းများအတွက် ကျန်းမာရေး၊ လူမှုရေး၊ သက်သာချောင်ချိရေးစသည့် ကိစ္စရပ်များတွင် သုံးစွဲနိုင်ရန်အတွက် နှစ်စဉ်အသားတင်အမြတ်ငွေ၏ ၂ % ကို Corporate Social Responsibility အဖြစ် အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၅။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် မတ်လ ၂၁ ရက်နေ့တွင် ကျင်းပသော ၁၂/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၆။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း ၁၁၊ ပုဒ်မ ၂၀ (က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည၊ ဋ) တို့အရ အခွန်ကင်းလွတ်ခွင့်(သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ စီအန်အမ် ဂါးမင့် အင်ဒက်စရီရယ် လီမိတက် (CNM Garment Industrial Limited) သည် ဦးပိုင်အမှတ်(၃/၉)၊ (၃/၁၀)၊ (၃/၂+ အန်-၃၆)၊ အောက်ဝါးနက်ချောင်းကျေးရွာအုပ်စု၊ ဝါးနက် ချောင်းကွင်းအမှတ်(၅၉၄/အေ)၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁.၉၁ ဧက (၇,၇၂၉.၅၀၃ စတုရန်းမီတာ) ပေါ်ရှိ မြေနှင့်အဆောက်အဦအားငှားရမ်း၍ CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

တိုင်းဒေသကြီးအစိုးရအဖွဲ့
စာအမှတ်၊ ၆၆၆၈
ရက်စွဲ ၁၀/၇/၁၆
ရန်ကုန်တိုင်းဒေသကြီး

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## တိုင်းဒေသကြီးအစိုးရအဖွဲ့
## ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၅ / MIC

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇူလိုင် လ ၁၀ ရက်

M - 1104
27/7/16

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၉. ၃. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက-၃/ မ-၁၃၄၂/ ၂၀၁၆(၄၈၇)

၁။ စီအန်အမ် ဂါးမင့် အင်ဒက်စရီးရယ် လီမိတက်သည် ဦးပိုင်အမှတ်(၃/၉)၊ (၃/၁၀)၊ (၃/၂+အန်-၃၆)၊ အောက်ဝါးနက်ချောင်းကျေးရွာအုပ်စု၊ ဝါးနက်ချောင်းကွင်းအမှတ်(၉၃၄/အေ)၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁. ၉၁ ဧက(၇,၇၂၉. ၅၀၃ စတုရန်းမီတာ)ပေါ်ရှိ မြေနှင့် အဆောက်အဦအား ငှားရမ်း၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ကန့်ကွက်ရန်မရှိကြောင်း တင်ပြအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(နော်ပန်းသဉ္ဇာမြိုး၊ တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး)

မိတ္တူကို

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
စီအန်အမ် ဂါးမင့် အင်ဒက်စရီးရယ် လီမိတက်
လက်ခံစာတွဲ/မျှောစာတွဲ

D/2016/Lesson(MIC),(14)

M-669
8/4/16

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
စာအမှတ်
ရက်စွဲ
ရန်ကုန်မြို့

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊၀၀၁/ MIC(OSS) /၀၁(၁၃၅ / ၁၆ )
ရက် စွဲ ၊၂၀၁၆ခုနှစ် ဧပြီလ ၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **CNM Garment Industrial Ltd မှ CMPစနစ်ဖြင့် အထည်ချုပ်လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၉-၃-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၃/ မ-၁၃၄၂/ ၂၀၁၆(၄၈၈)

၁။ CNM Garment Industrial Ltd သည် ဦးပိုင်အမှတ်(၃/၉)(၃/၁၀)၊ (၃/၂+အန်-၃၆) အောက်ဝါးနက်ချောင်းကျေးရွာအုပ်စု၊ ဝါးနက်ချောင်းကွင်းအမှတ်(၅၉၄/အေ)၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိမြေဧရိယာ ၁.၉၁ ဧက(၇၇၂၉.၅၀၃စတုရန်းမီတာ)ပေါ်ရှိမြေနှင့်အဆောက်အဦအားငှားရမ်း၍CMP စနစ်ဖြင့်အထည်ချုပ်လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စီစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ်(၅၀)နှင့်(၁၀)နှစ်သက်တမ်းတိုး(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ(၁)နှစ်ဖြစ်ကြောင်း၊ ဝန်ထမ်းသက်သာချောင်ချိရေးအစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုစီမံချက်များကိုလည်းထားရှိ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏(၂%)ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု( Corporate Social Responsibility – CSR ) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် သန့်စင်ခန်းများထားရှိခြင်း၊ အမှိုက်များနှင့်စွန့်ပစ်ပစ္စည်းများအား စနစ်တကျစွန့်ပစ်ခြင်း၊ ရေနုတ်မြောင်းများအား ရေစီးရေလာကောင်းမွန်အောင်ပြုပြင်ခြင်းလုပ်ငန်းများအား ဆောင်ရွက်သွားမည်ဖြစ်ကြောင်းဖော်

ပြုပါရှိပါသည်။

၃။ CNM Garment Industrial Ltd မှ အထည်ချုပ်လုပ်ငန်းများဆောင်ရွက်ရာတွင် ကုန်ကြမ်းအဖြစ်အသုံးပြုမည့် Fabric, Polyester စသည့်တို့သည် ဆွေးမြေ့ပျက်စီးရန်အချိန်ကြာမြင့်ပြီး မြေဆီလွှာထိခိုက်ပျက်စီးခြင်း၊ လုပ်ငန်းအဆင့်တိုင်းတွင်ထွက်ရှိလာမည့် ပိတ်ဖြတ်စ၊ ညှပ်စ၊ အမှုန်အမွှားများကြောင့် ပတ်ဝန်းကျင်လေထုနှင့်မြေထုညစ်ညမ်းခြင်း၊ ပိတ်စဖြတ်ခြင်း၊ ပုံစံညှပ်ခြင်း၊ အထည်ချုပ်ခြင်းလုပ်ငန်းအဆင့်တိုင်းတွင်စက်များကို အသုံးပြုဆောင်ရွက်ရမည်ဖြစ်သဖြင့် အသံဆူညံခြင်း စသည့်ပတ်ဝန်းကျင်ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ CNM Garment Industrial Ltd မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာအကျိုးပြုလုပ်ငန်းများတာဝန်ခံဆောင်ရွက်မှု( Corporate Social Responsibility–CSR )အတွက် အသားတင်အမြတ်ငွေ၏(၂%)အား အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအားလိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက်သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** ( Environmental Management Plan – EMP )အားပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ

M-786
10/5/2016

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၁၈-စမ(၂)၂၀၁၆-၂၀၁၇(၁၃၃)

ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ ဧပြီလ ၂၉ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၉.၃.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၃/ မ-၁၃၄၂ / ၂၀၁၆ (၄၈၉)

၁။ CNM Garment Industrial Limited. မှ နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊မှော်ဘီမြို့နယ်၊ ဝါးနက်ချောင်းကွင်းအမှတ်(၅၉၄/အေ)၊ အောက်ဝါးနက်ချောင်းကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်(၃/၉)၊ (၃/၁၀)၊ (၃/၂+အန်-၃၆)တွင် CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံပြီး CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ယင်းအစီအမံအတွက် အမြတ်ငွေ၏ ၂% သုံးစွဲရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) ကုန်ကြမ်းနှင့် ပူးတွဲသုံးပစ္စည်းသုံးစွဲမှုနှုန်း တင်ပြချက် ဆီလျော်မှု ရှိပါသည်။

(စ) CMP လုပ်ခနှုန်းတင်ပြထားမှုမှာ လျော့နည်းပါသဖြင့် အနည်းငယ်တိုးမြှင့် ပြင်ဆင်တင်ပြရန် လိုအပ်ပါသည်။

(ဆ) နှစ်အလိုက် ကုန်ကြမ်းနှင့် ပူးတွဲသုံးပစ္စည်းလိုအပ်ချက်အား နှစ်အလိုက် ကုန်ထုတ်လုပ်မှုနှင့် ကုန်ကြမ်းသုံးစွဲမှုနှုန်းအပေါ် မူတည်၍ စိစစ်ရာ မှားယွင်းတွက်ချက်တင်ပြထားသဖြင့် ပြင်ဆင်တင်ပြရန် လိုအပ်ပါသည်။

(ဇ) နှစ်အလိုက် ကုန်ထုတ်လုပ်မှုပြည့်မီရန်အတွက် ဝန်ထမ်းအင်အား ဖြည့်တင်းရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ CNM Garment Industrial Limited. မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ် (၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

တယ်လီဖုန်း-၀၁-၆၅၈၁၂၈ | စာအမှတ်၊မရက- ၃/ မ-၁၃၄၂/ ၂၀၁၆( ၈၇၀-က)

ဖက်(စ်) -၀၁-၆၅၈၁၄၁ | ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဇွန်လ ၂၄ ရက်

## အဆိုပြုလွှာအပေါ်ထပ်မံစိစစ်ချက်

စီအန်အမ် ဂါးမင့် အင်ဒက်စရီရယ် လီမိတက် မှ CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်း အတွက်ပေးပို့ခဲ့သော လုပ်ငန်းနှင့်စပ်လျဉ်း၍ ကုမ္ပဏီသည် ဌာနများ၏ လမ်းညွှန်ချက်နှင့်အညီ ပြန်လည် ပြင်ဆင် တင်ပြလာပါသဖြင့် ၎င်းပြင်ဆင်ချက်ကို အောက်ပါဇယားတွင် စိစစ်မှတ်ချက်ပြု ပေးနိုင်ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၂၄.၆.၂၀၁၆

အတွင်းရေးမှူး(ကိုယ်စား)
(စန်းစန်းမြင့်၊ ညွှန်ကြားရေးမှူး)

| စဉ် | ဌာန | စိစစ်သူ | | စိစစ်ဆောင်ရွက်ချက် | လက်မှတ် |
|---|---|---|---|---|---|
| | | အမည် | ရာထူး | | |
| ၁ | စက်မှုဝန်ကြီးဌာန | (ထင်ဝင်း) | လက်ထောက်အတွင်းဝန် (ညွှန်ကြားရေးမှူး) စက်မှုဝန်ကြီးဌာန | လက်ခံနိုင်ပါသည်/ ပြန်လည်စိစစ်ရန် လိုအပ်ပါသည်/ လက်မခံနိုင်ပါ | |
| ၂ | အမှတ်(၃) အကြီးစား စက်မှုလုပ်ငန်း | ဦးအောင်မျိုးမင်း | [illegible] | လက်ခံနိုင်ပါသည်/ ပြန်လည်စိစစ်ရန် လိုအပ်ပါသည်/ လက်မခံနိုင်ပါ | |

မိတ္တူကို
ရုံးလက်ခံ

NPT-972
27.4.16

M-719
2814

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ

ဝန်ကြီးရုံး

စာအမှတ်၊ ၃၄/အလ/ခွဲ(၂)၂၀၁၆(၃၇၇)
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ ဧပြီလ ၂၆ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ CNM Garment Industrial Limited မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း **သဘောထားမှတ်ချက်တောင်းခံခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၉-၃-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက- ၃/မ- ၁၃၄၂/ ၂၀၁၆(၄၉၀)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ ဝါးနက်ချောင်းကျေးရွာအုပ်စု၊ ဝါးနက်ချောင်းကွင်း အမှတ် (၅၉၄/အေ)၊ ဦးပိုင်အမှတ် (၃/၉)၊ (၃/၁၀)၊ (၃/၂+အနံ ၃၆) ၌ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုနှင့်အညီ မြန်မာနိုင်ငံတွင် CNM Garment Industrial Limited တည်ထောင်ကာ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် တင်ပြလာမှုအပေါ် CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့ ဥက္ကဋ္ဌ၊ အလုပ်ရုံနှင့် အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန၊ ညွှန်ကြားရေးမှူးချုပ် ဦးဝင်းရှိန်နှင့် အထည်ချုပ်စက်ရုံ အမှတ်(၁၇) စက်ရုံမှူး ဒေါ်လှသီတာ တို့သည် ၅-၄-၂၀၁၆ ရက်နေ့တွင် စက်ရုံသို့သွားရောက်၍ စစ်ဆေးခဲ့ပါသည်။

၂။ CNM Garment Industrial Limited ၏ အဆိုပြုချက်အပေါ် အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) **CMP ကုန်ကြမ်း လိုအပ်ချက်နှင့်ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိ/မရှိ**

အဆိုပြုချက်ပါ ထုတ်လုပ်မည့် Shirt အင်္ကျီ၏ Norm ဖော်ပြထားခြင်းမရှိသဖြင့် စိစစ်၍မရပါ။ Total Raw Material Requirement လည်း စိစစ်မရသဖြင့် ပြင်ဆင်တင်ပြသင့်ပါသည်။

(ခ ) **CMPလက်ခနှုန်းထားများ တင်ပြမှုဆီလျော်မှုရှိ/မရှိ**

အဆိုပြုချက်ပါ CMP လက်ခ နှုန်းထားများသည် ချုပ်ထည်၏ အမျိုးအစား၊ ဒီဇိုင်း အမျိုးအစား၊ ချုပ်လုပ်သည့်ချုပ်ရိုးချုပ်သားကောင်းမွန်မှုပေါ်တွင် အနည်းငယ် ဈေးနှုန်းအနိမ့်အမြင့်ရှိသဖြင့် CMP လက်ခနှုန်းထားများသည် အနည်းငယ်ဈေးနှုန်း နည်းနေကြောင်း တွေ့ရှိရပါသည်။

| ချုပ်ထည် | အဆိုပြုချက်ပါ CMP လက်ခနှုန်းထား | အထည်ချုပ်အသင်း လက်ရှိ CMP လက်ခနှုန်းထား |
| --- | --- | --- |
| 1. Shirt | 12.6 US$/ Dz | 12.00-18.00 US$/ Dz |

(ဂ) **နှစ်စဉ်ထုတ်လုပ်မှု ၊ စက်အင်အား ၊ လူအင်အားအချိုးအစား ညီမျှမှု ရှိ/မရှိ**

အဆိုပြုချက်ပါ ထုတ်လုပ်မည့် ပစ္စည်းများမှာ Shirt တစ်မျိုးတည်းဖြစ်ပြီး အဓိက စက်အနေဖြင့် Single Needle Machines ၄၂၃ လုံး၊ Double Needle Machines ၂၈ လုံး၊ Over/Inter Lock Machines ၁၄ လုံး ဖြင့် Skilled Workers ၁၅၉ ဦး၊ Unskilled Workers ၆၀ ဦး ခန့်ထားလုပ်ကိုင်စေ၍ စက်အရေအတွက်များပြီး လူအရေအတွက်နည်းနေပါသည်။ Cutting , Finishing, Helper, QC, PQC နှင့် အခြားအထောက်အကူပြုစက်အတွက် လူခွဲထုတ်ပါက စက်အားလုံးမလည်ပတ်နိုင်ဘဲ အဆိုပြုပထမနှစ်ထုတ်လုပ်မည့် အရေအတွက်မှာလည်း နှစ်မျိုးဖြစ်နေ၍ တွက်ချက်မှုမပြုထားသဖြင့် ပြင်ဆင်တင်ပြသင့်ပါသည်။

၃။ သို့ဖြစ်ပါ၍ CNM Garment Industrial Limited အား ပြင်ဆင်တင်ပြသင့်သည်များကို ပြင်ဆင်တင်ပြစေပြီးမှသာ ခွင့်ပြုသင့်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပါက အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲမှုလျှော့ချရေးကို အထောက်အကူပြုနိုင်မည်ဖြစ်၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း လုပ်ကိုင်ခွင့်ကို အားပေးဆောင်ရွက်သင့်ပါကြောင်း တင်ပြအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မျိုးအောင်၊ အမြဲတမ်းအတွင်းဝန်)
(အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန)

မိတ္တူကို
အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
(CMP လုပ်ငန်းများ စစ်ဆေးရေးဆပ်ကော်မတီ)
အလုပ်ရုံနှင့်အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန
(CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့)
CNM Garment Industrial Limited
ရုံးလက်ခံ
မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ

စာအမှတ်၊ ၃၄/အလ/ခွဲ(၂)၂၀၁၆( ၁၆၅၈ )

ရက် စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဩဂုတ်လ ၉ ရက်

NPT.2074 12.8.2016

M-1189 15/8/16

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **CNM Garment Industrial Limited မှ CMP စနစ်ဖြင့် အထည်အမျိုးမျိုး ချုပ်လုပ်ခြင်း လုပ်ငန်း အဆိုပြုလွှာထပ်မံစိစစ်ချက်ပေးပို့ခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇-၇-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မရက- ၃/မ- ၁၃၄၂/ ၂၀၁၆(၁၀၁၁)

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အထက်ရည်ညွှန်းပါစာဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ ဝါးနက်ချောင်းကျေးရွာအုပ်စု၊ ဝါးနက်ချောင်းကွင်းအမှတ် (၅၉၄/အေ)၊ ဦးပိုင်အမှတ် (၃/၉၊ ၃/၁၀၊ ၃/၂+အနံ ၃၆)ရှိ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုနှင့်အညီ CNM Garment Industrial Limited တည်ထောင်ကာ CMP စနစ်ဖြင့် အထည်အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်း အဆိုပြုလွှာထပ်မံစိစစ်ချက် ပေးပို့လာခြင်းကိစ္စနှင့်စပ်လျဉ်း၍ စိစစ်ဆောင်ရွက်ချက်ကို အောက်ပါအတိုင်း တင်ပြအပ်ပါသည်-

| စဉ် | ဌာန | စိစစ်သူ | | စိစစ်ဆောင်ရွက်ချက် | လက်မှတ် |
|---|---|---|---|---|---|
| | | အမည် | ရာထူး | | |
| ၁ | CMPလုပ်ငန်းများကြီးကြပ်ရေးကော်မတီ | ဒေါ်မို့မို့သွင် | CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့၊ ဥက္ကဋ္ဌ ညွှန်ကြားရေးမှူး၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန | လက်ခံနိုင်ပါသည်။ | |

၉/၈/၂၀၁၆

ဥက္ကဋ္ဌ(ကိုယ်စား)

(မောင်မောင်ကျော်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

(အလုပ်သမား၊လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန)

မိတ္တူကို

ညွှန်ကြားရေးမှူး၊ တိုင်းဒေသကြီးဦးစီးမှူး

အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

(ရန်ကုန်တိုင်းဒေသကြီး၊ CMP လုပ်ငန်းများမြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့)

D:\NPT(ET)\2016\CMP & MIC\CMP(8-2016)\TO MIC.docx

MIC

ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ
ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်
အဆိုပြုချက်

စီအန်အမ် ဂါးမင့် အင်ဒက်စရီရယ် လီမိတက်

PROPOSAL OF THE INVESTOR TO MAKE
MYANMAR CITIZENS INVESTMENT IN
THE REPUPLIC OF THE UNION OF MYANMAR

**CNM GARMENT INDUSTRIAL LIMITED.**

